OIC

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၀၅/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးသတိုးဟိန်း

(ခ) **အဘ အမည်** ဦးထွန်းဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/မရက(နိုင်) ၀၀၃၄၀၃

(ဃ) **နေရပ်လိပ်စာ** အမှတ်(၆၅/အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ရွှေတောင်ကြား (၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Myanma Awba Group Company Limited (မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၅ A၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇ ကာ/၂ ရှိ မြေဧရိယာ(၁၃ ၇.၂၈)ဧကအနက် (၁၂၆.၁၃) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၁၇, ၂၉၁.၅၀တိတိ(အမေရိကန်ဒေါ်လာ ၆.၄၅ သန်း အပါအဝင် ကျပ် တစ်သောင်းခုနှစ်ထောင် နှစ်ရာကိုးဆယ့်တစ်သန်း ငါးသိန်း တိတိ)

(22/2015) MIC (11.12.15) နေ့တွင် ခေါ်ယူစည်းဝေးတွင် လာရောက်ထုတ်ယူပြီးဖြစ်ပါသည်။

၁/၁၂

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့်ကြော်ငြာစာအမှတ်၊ ၁၁၀ / ၂၀၁၅(မနသ)**
**၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁ ရက်**

၁။ မြန်မာကုမ္ပဏီဖြစ်သော Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာ အုပ်စု၊ ကွင်းအမှတ် ၅၉၅A၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇က/၂ ရှိ မြေဧရိယာ ၁၃၇.၂၈ ဧက အနက် ၁၂၆.၁၃ ဧက (၅၁၀,၄၃၀.၄၅၂၈စတုရန်းမီတာ) အား ငှားရမ်း၍ စိုက်ပျိုးရေး သုံးဆေးများ ထုတ်လုပ်ခြင်းလုပ်ငန်း ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၃ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၂၀/၂၀၁၅) အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanma Awba Group Company Limited (မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်) ကို စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၁၀၅/၂၀၁၅ ကို ထုတ်ပေး လိုက်သည်။

၂။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စု ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ် ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံ ရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(င)အရ အမှန်တကယ် လိုအပ်၍ ဆောင်ရွက်သည့် လုပ်ငန်းဆိုင်ရာ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများအတွက် ကုန်ကျစရိတ်ကို အခွန်စည်းကြပ်ထိုက်သော ဝင်ငွေမှနုတ်ပယ်ခွင့် ရှိသည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊စက်ကိရိယာ၊အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ

အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို** အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင် အထည် ဖော်ရမည်။

၅။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအတည်ပြုပြီး ဖြစ်သော လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် မြေနှင့် အဆောက်အဦများအား BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်း စည်းကမ်း များအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှား စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ကနဦးနှစ်(၁၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်း အား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်းအတွက် တစ်ဧကလျှင် ကျပ် ၁၀၀,၀၀၀ (ကျပ် တစ်သိန်း) နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် ၁၂၆.၁၃ သိန်း (ကျပ်တစ်ရာနှစ်ဆယ့်ခြောက်သိန်းတစ်သောင်း သုံးထောင် တိတိ) အား လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနသို့ ပေးသွင်း ရမည် ဖြစ်ပါသည်။

၉။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက် ချောင်း ကျေးရွာအုပ်စု၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇^က/၂ ကို အငှားချထားသူ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦများအား BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်း ခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့မပျက်မကွက် ပေးပို့ တင်ပြ ရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ Myanma Awba Group Company Limited (မြန်မာ့ ဩဘာအုပ်စုကုမ္ပဏီလီမိတက်) သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများ လျော့နည်း စေရေးတို့အတွက် ပတ်ဝန်း ကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်း ကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၂။ Myanma Awba Group Company Limited (မြန်မာ့ ဩဘာအုပ်စုကုမ္ပဏီလီမိတက်) သည် နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၃။ Myanma Awba Group Company Limited (မြန်မာ့ ဩဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြုတတ်စေရန်သင်တန်းများ ပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကိုဤကော်မရှင်သို့မပျက်မကွက် အစီရင်ခံရမည်။

၁၅။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် စိုက်ပျိုးရေးဦးစီးဌာန၏ စိုက်ပျိုးရေးသုံးဆေးများ ဖြန့်ဖြူးရောင်းချသည့် လိုင်စင်နှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၆။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၁/၁၁

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၃/မ-၁၂၆၇/၂၀၁၅ (၁၆၇၇.၁ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃) အကြီးစားစက်မှု လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ Myanma Awba Group Company Limited (မြန်မာ့ သြဘာအုပ်စု ကုမ္ပဏီလီမိတက်)

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၁-၉-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁-၁၀-၂၀၁၅ | ၂၄-၁၀-၂၀၁၅ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၁၇-၁၀-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၁၃-၁၀-၂၀၁၅ | |
| | - လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၃၀-၁၀-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး သို့ တင်ပြခြင်း | ၃၅/၂၀၁၅ (၂၈-၉-၂၀၁၅) | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်း ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၃၀-၉-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ (၇)စုံ ပေးပို့ခြင်း | ၄-၁၁-၂၀၁၅ | | |
| ၆ | **စုစုပေါင်းကြာမြင့်ရက်** | (၄၅)ရက် | | |

အကြောင်းအရာ။ မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက်မှစိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသတိုးဟိန်း(အဘ-ဦးထွန်းဝင်း) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက် (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - စိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၅^A၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇^က/၂ |
| ၅။ | မြေပိုင်ရှင် | - လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာန ဌာနပိုင်မြေအား မြန်မာ့ဩဘာ အုပ်စုကုမ္ပဏီလီမိတက်မှ BOT စနစ်ဖြင့် ငှားရမ်းမည် ဖြစ်ပါသည်။ |
| | မြေအကျယ်အဝန်း | - ၁၂၆.၁၃ ဧက (၅၁၀,၄၃၀.၄၅၂ စတုရန်းမီတာ) |
| | မြေငှားရမ်းကာလ | ကနဦး ၁၀ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - တစ်နှစ် တစ်ဧကလျှင် ကျပ် ၁၀၀,၀၀၀ နှင့် ၁၂၆.၁၃ ဧက အတွက် စုစုပေါင်း ကျပ် ၁၂၆.၁၃ သိန်း ဖြစ်ပါသည်။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၁၀) နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့် အမျိုးအစား | - ကျပ် ၁၇,၂၉၁.၅၀ သန်း |

ကျပ်(သန်း)

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| - ငွေပမာဏ | ၂၀၀.၀၀ | - | ၂၀၀.၀၀ |
| - စက်ပစ္စည်းများ | - | ၇,၃၂၀.၀၀ (US$ ၆.၁၀ သန်း) | ၇,၃၂၀.၀၀ |
| - မော်တော်ယာဉ် | ၇၂၄.၀၀ | ၂၇၀.၀၀ (US$ ၀.၂၂၅ သန်း) | ၉၉၄.၀၀ |
| - လျှပ်စစ်ပစ္စည်းများ | ၄၅၀.၀၀ | ၁၅၀.၀၀ (US$ ၀.၁၂၅ သန်း) | ၆၀၀.၀၀ |
| - အဆောက်အဦတည်ဆောက်မှု | ၇,၈၇၇.၅၀ | - | ၇,၈၇၇.၅၀ |
| - လမ်းနှင့်အခြေခံအဆောက်အဦ | ၃၀၀.၀၀ | - | ၃၀၀.၀၀ |
| **စုစုပေါင်း** | **၉၅၅၁.၅၀** | **၇,၇၄၀ .၀၀ (US$ ၆.၄၆ သန်း)** | **၁၇,၂၉၁.၅၀** |

| | | |
|---|---|---|
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၁၈၄,၄၈၆.၇၅ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၁၇၈,၅၀၇.၂၇ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၅,၉၇၉.၄၈ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | ( 1 US$ = ၁,၂၀၀ ကျပ်) |
| | ဝင်ငွေခွန် | - ကျပ် ၁၉၉၃.၁၆ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၃ နှစ် ၆ လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၃.၇၈ % |
| ၁၃။ | ရောင်းချပုံ နည်းစနစ် | - ၁၀၀% ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ |
| ၁၄။ | ထုတ်လုပ်သည့် ကုန်စည်အုပ်စုအလိုက် နှင့်စုစုပေါင်းရောင်းရငွေ (၆နှစ်မြောက်) | - |

| အမျိုးအစား | ထုတ်လုပ်မှု အမျိုးအစားပေါင်း | စုစုပေါင်း ရောင်းရငွေ (ကျပ်သန်း) |
|---|---|---|
| Insecticides | ၂၅၄ | ၁၁၆,၄၆၄.၈၁ |
| Fungicides | ၃၅ | ၄,၄၅၁.၂၄ |
| Herbicides | ၂၂၅ | ၄၂,၀၃၉.၅၇ |
| Foliar Fertilizer | ၁၂၆ | ၂၁,၅၃၁.၁၃ |

| | | |
|---|---|---|
| ၁၅။ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | ၂၀၀၆ ဦး |
| | ပြည်တွင်း | - ၂၀၀၂ ဦး (အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၇၀၀,၀၀၀) |
| | ပြည်ပ | - ၄ ဦး (ဝန်ထမ်းတစ်ဦး၏ပုံသေလစာ US$ ၄,၀၀၀) |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၁၅ KVA |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ ၏၂% ကို Corporate Social Responsibility အဖြစ်အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေး အစီအစဉ် | - မီးငြိမ်းသတ်ရန် အဖွဲ့ ဖွဲ့စည်းခြင်း၊ မီးသတ် ဆေးဘူး များ၊ မီးသတ် ရေပုံး၊ မီးသတ်စင်၊ မီးကပ်၊ မီးချိပ်၊ သဲ၊ ဂေါ်ပြား၊ ၁၂,၀၀၀ ဂါလံဆန့် မီးသတ် ရေကန် ၁ ကန် နှင့် ၅,၀၀၀ ဂါလံဆန့် ရေလှောင်ကန် ၁ ကန်တို့ ထား ရှိမည်ဖြစ်ကြောင်း မီးငြိမ်းသတ်ရေး အစီအစဉ်တွင် တင်ပြ ထား ပါသည်။ |

| | | |
|---|---|---|
| ၁၉။ | အခြား | - မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်၏ကုမ္ပဏီမှတ်ပုံတင် အထောက်အထား၊ ပုံစံ ၆ ၊ ပုံစံ ၂၆၊ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ ကိုတင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့ သြဘာ အုပ်စု ကုမ္ပဏီလီမိတက် သည် ၃၀-၆-၂၀၁၅ အထိ ကမ္ဘောဇ ဘဏ်တွင် ကျပ် ၃၇၂,၀၇၂,၆၉၁.၅၈ နှင့် ဧရာဝတီ ဘဏ်တွင် ၃၀-၆-၂၀၁၅ အထိ ကျပ် ၁,၇၆၂,၁၂၄,၃၀၆.၄၄ ရှိ ကြောင်း အထောက်အထား များအား တင်ပြထားပါ သည်။<br>- လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနနှင့် မြန်မာ့သြဘာအုပ်စု ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦအား BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စု ရှေ့နေချုပ် ရုံးမှ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်ပြီး ဖြစ်ပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန် ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုရန် လျှောက်ထားလာပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - စိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၅$^{A}$၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇$^{က}$/၂ ရှိ မြေဧရိယာ ၁၂၆.၁၃ ဧက (၅၁၀,၄၃၀.၄၅၂ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၇,၂၉၁.၅၀၀ သန်း(US$ ၆.၄၆၀ သန်းအပါအဝင်) |
| ရောင်းချမည့် နည်းစနစ် | - ၁၀၀% ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၃ နှစ် ၆ လ |
| IRR | - ၃၃.၇၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယား ဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆၀(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၅၇.၈၀၀ | - |
| ၄ | ဝင်ငွေခွန် | ၅၃၇၉.၆၄၈ | ၁၇၅၁၂.၂၄၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | ၅၀၀.၀၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါကအခွန်ပေးရမည့် ဝန်ထမ်း (၈၀)ဦး |
| ၇ | CSR (၂ %) | - | ၄၉၀.၁၁၀ |
| ၈ | မြေငှားရမ်းခရငွေ | - | ၆၃.၀၅၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၂၀၀၂) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | | **ကျပ် ၅၅၃၉.၆၀၈ သန်း** | **ကျပ် ၁၈၅၆၆.၇၆၅ သန်း** |
| | **Cost : Benefit** | **၁ : ၄** | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၃/ မ- ၁၂၆၇/ ၂၀၁၅ ( ၁၅၅၅ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ " ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၅$^{A}$ ၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇$^{က}$/၂ ရှိ မြေဧရိယာ ၁၃၇.၂၈ ဧက အနက် ၁၂၆.၁၃ ဧက (၅၁၀,၄၃၀.၄၅၂စတုရန်းမီတာ) အားငှားရမ်း၍ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ တဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနနှင့် မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦအား BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာ ဓာတ်ပုံများ၊ လုပ်ငန်းတည်နေရာပြ မြေပုံများ၊ ဆောက်လုပ် မည့် အဆောက်အဦဓာတ်ပုံနှင့် ကုမ္ပဏီ၏ သင်းဖွဲ့ မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့အား တင်ပြ ထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၅၁၀,၄၃၀.၄၅၂ စတုရန်းမီတာ (၁၂၆.၁၃ဧက) ဖြစ်ပြီး မြေနှင့် အဆောက်အဦ၏ ငှားရမ်းခမှာ တစ်ဧကလျှင် ကျပ် တစ်သိန်းဖြင့် တစ်နှစ်လျှင် ကျပ် ၁၂၆.၁၃ သိန်း ဖြစ်ပါသည်။ မြေငှား သက်တမ်းမှာ ကနဦး ၁၀ နှစ် နှင့် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၁၀ နှစ်၊ သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၁၇,၂၉၀.၅၀ သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ထည့်ဝင်သည့် အမျိုးအစား | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ (ကျပ်သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၂၀၀.၀၀ | - | ၂၀၀.၀၀ |
| (ခ) | စက်ပစ္စည်းများ | - | ၇,၃၂၀.၀၀ (US$ ၆.၁၀၀ သန်း) | ၇,၃၂၀.၀၀ |
| (ဂ) | မော်တော်ယာဉ် | ၇၂၄.၀၀ | ၂၇၀.၀၀ (US$ ၀.၂၂၅ သန်း) | ၉၉၄.၀၀၀ |
| (ဃ) | လျှပ်စစ်ပစ္စည်းများ | ၄၅၀.၀၀ | ၁၅၀.၀၀ (US$ ၀.၁၂၅ သန်း) | ၆၀၀.၀၀ |
| (င) | အဆောက်အဦ တည်ဆောက်မှု | ၇,၈၇၇.၅၀ | - | ၇,၈၇၇.၅၀ |
| (စ) | လမ်းနှင့်အခြေခံ အဆောက်အဦ | ၃၀၀.၀၀ | - | ၃၀၀.၀၀ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၉၅၅၁.၅၀** | **၇,၇၄၀ .၀၀ (US$ ၆.၄၆ သန်း)** | **၁၇,၂၉၁.၅၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်းဦးရေ (၂၀၀၂) ဦးနှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်းဦးရေ (၄) ဦး စုစုပေါင်း (၂၀၀၆) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်း၏ လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း၏လစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပ ဝန်ထမ်းတစ်ဦး၏ ပုံသေလစာမှာ အမေရိကန် ဒေါ်လာ ၄,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပြီးပုံမှန်နှစ်(၆နှစ်မြောက်) ထုတ်လုပ်သည့် ကုန်စည်အုပ်စုအလိုက်နှင့် ရောင်းရငွေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု အမျိုးအစားပေါင်း | စုစုပေါင်းရောင်းရငွေ (ကျပ်သန်း) |
|---|---|---|---|
| (က) | Insecticides | ၂၅၄ | ၁၁၆,၄၆၄.၈၁ |
| (ခ) | Fungicides | ၃၅ | ၄,၄၅၁.၂၄ |
| (ဂ) | Herbicides | ၂၂၅ | ၄၂,၀၇၉.၅၇ |
| (ဃ) | Foliar Fertilizer | ၁၂၆ | ၂၀,၅၃၀.၁၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆) နှစ်မြောက်တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၈၄,၄၈၆.၇၅ |
| (ခ) | အသုံးစရိတ် | ၁၇၈,၅၀၇.၂၇ |
| (ဂ) | အသားတင်အမြတ် | ၅,၉၇၉.၄၈ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (၆)နှစ်မြောက်တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန်ကျပ် ၁,၉၉၃.၁၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ်နှင့် ၆ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃၃.၇၈% ဖြစ် ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၅၀/၂၀၁၅၊ ဆုံးဖြတ်ချက်အပိုဒ် ၂၅ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းကြောင်း ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံ စွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility - CSR) လုပ်ငန်း များအတွက် အသားတင် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် ရန်။

(၂) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး(သို့မဟုတ်)အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်။

(၃) အဆိုပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်း အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲ တင်ပြရန်နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်စေရန်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ Environmental Impact Assessment - EIA နှင့် Environmental Management Plan - EMP တို့အား ရေးဆွဲ တင်ပြမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။** **(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်း အသုံးပြုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန်လိုအပ်ကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေ နှင့် အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြား ထားပါသည်-

(၁) စိုက်ပျိုးရေးဦးစီးဌာနမှ သဘာဝပတ်ဝန်းကျင်မထိခိုက်စေဘဲ အခြေခံဖော်စပ် ထုတ်ပိုး စက်ရုံအဆောက်အဦ ပြည့်စုံသည့် နေရာတစ်ခု ပေါ်ထွန်းရန်အတွက် ငှားရမ်းခြင်း ဖြစ်၍ လုပ်ငန်းများ လုပ်ကိုင်နိုင်ရေးအတွက် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရရှိရေးလျှောက်ထားလာခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) စက်မှုဝန်ကြီးဌာနမှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ လွှဲပြောင်း ပေးအပ်ခဲ့ခြင်း ဖြစ်ပါကြောင်း၊ အဆိုပါ စက်ရုံမြေ (၁၃၇.၂၈) ဧက အနက်မှ ပိုးသတ်ဆေးစက်ရုံမြေ (၁၁.၁၅) ဧကကို ချန်လှပ်ပြီး ဧရိယာ (၁၂၆.၁၃) ကို စိုက်ပျိုး ရေးသုံးဆေးများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ရန်အတွက် မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်သို့ ငှားရမ်းခြင်း ဖြစ်ပါကြောင်း။ **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့ သြဘာအုပ်စု ကုမ္ပဏီလီမိတက် သည် ၃၀-၆-၂၀၁၅ အထိ ကမ္ဘောဇ ဘဏ်တွင် ကျပ် ၃၇၂,၀၇၂,၆၉၁.၅၈ နှင့် ဧရာဝတီ ဘဏ်တွင် ၃၀-၆-၂၀၁၅ အထိ ကျပ် ၁,၇၆၂,၁၂၄,၃၀၆.၄၄ ရှိ ကြောင်း အထောက်အထား များအား တင်ပြ ထားပါ သည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြား မှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအတွက် မီးငြိမ်းသတ်ရန် အဖွဲ့ ဖွဲ့စည်းခြင်း၊ မီးသတ် ဆေးဘူး များ၊ မီးသတ် ရေပုံး၊ မီးသတ်စင်၊ မီးကပ်၊ မီးချိပ်၊ သဲ၊ ဂေါ်ပြား၊ ၁၂,၀၀၀ ဂါလံဆန့် မီးသတ် ရေကန်နှင့် ၅,၀၀၀ ဂါလံဆန့် ရေလှောင်ကန်တို့ ထားရှိ မည် ဖြစ် ကြောင်း မီးငြိမ်းသတ်ရေး အစီအစဉ်တွင် တင်ပြ ထားပါသည်။

၁၃။ မြန်မာ့ သြဘာအုပ်စု ကုမ္ပဏီလီမိတက်မှ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ဝန်ထမ်း များ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး စီမံချက်၊ လစာခွန် ပေးဆောင်မည်

ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်၊ လုပ်ငန်းဆောင်ရွက်ပုံ Process Flow Diagram၊ Jet Mill Layout Plan၊ Toxic Waste Incinerator၊ Foliar Fertilizer Powder Formulation Process၊ Foliar Powder Formulation Plant၊ EC Liquid Formulation Plant၊ Emulsifiable Concentrate Liquid Formulation Process Flow Sheet၊ Waste Water Treatment Process၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြ ထားပါသည်။

၁၄။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၅။ မြန်မာ့ ဩဘာအုပ်စု ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံတော်ရှိ လူ့အဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲ မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၂၈ ရက်နေ့တွင် ကျင်းပသော ၃၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ င၊ စ၊ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင် မည်ဖြစ်ပါသည်။

၁၈။ B.O.T စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ပိုးသတ်ဆေးစက်ရုံပိုင်မြေအား B.O.T စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း)၏ ရည်ရွယ်ချက် **စာပိုဒ် ၃-၄** တွင် မြန်မာနိုင်ငံပိုးသတ်ဆေး မှတ်ပုံတင် အဖွဲ့မှ သတ်မှတ်ထားသည့် အဆိုပါ ပိုးသတ်ဆေးစက်ရုံ၊ မြေနေရာတွင် ပိုးသတ် ဆေးများ ဖော်စပ်ထုတ်လုပ်မှု ပြုလုပ်ခြင်းဖြင့် လူနှင့်သဘာဝပတ်ဝန်းကျင်ကို ထိခိုက်ပျက်စီးမှု အနည်းဖြစ်စေရန်ဟု ဖော်ပြပါရှိပါသည်။

(ခ) မြေငှားရမ်းခနှုန်းထားသတ်မှတ်ချက် **စာပိုဒ် ၅-၁** တွင် မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်- ၇(က)/၂ ပိုးသတ်ဆေးစက်ရုံပိုင် မြေ ၁၃၇.၂၈ ဧက အနက် ၁၂၆.၁၃ ဧကနှင့် အဆောက်အဦများအား တစ်နှစ်လျှင် တစ်ဧက ကျပ် (၁၀၀,၀၀၀) နှုန်း (ကျပ် တစ်သိန်းတိတိ) ဖြင့် ငှားရမ်းရန်ဟု ဖော်ပြပါရှိပါသည်။

(ဂ) မြေအသုံးပြုခြင်း **စာပိုဒ် ၇-၂** တွင် စွန့်ပစ်ရေများအား ပြန်လည်သန့်စင်သည့် Waste Water Treatment System အား ကျပ်သိန်း (၂,၀၀၀) ကျော် အကုန် အကျခံ တည်ဆောက်ရမည် ဖြစ်ကြောင်း၊ **စာပိုဒ် ၇-၃** တွင် ပိုးသတ်ဆေး ဖော်စပ် ထုတ်လုပ်ရာမှ ထွက်ရှိလာသော စွန့်ပစ်အမှိုက်အား မီးရှို့ဖျက်ဆီးရန် Incinerator (မီးရှို့စက်) အား ကျပ် သိန်း (၁,၅၀၀) ကျော် အကုန်အကျခံ တပ်ဆင် ရမည် ဖြစ်ကြောင်း၊ **စာပိုဒ် ၇-၄** တွင် စက်ရုံများအတွက် လိုအပ်သော လျှပ်စစ်ဓာတ်အား အတွက် ကျပ်သိန်း (၁,၅၀၀) ကျော် အကုန်အကျခံ တည်ဆောက်ရမည်ဖြစ်ကြောင်း၊

စာပိုဒ် ၇-၅ တွင် မီးငြိမ်းသတ်ရန်အတွက် ရေဂါလံ ၂ သိန်း သိုလှောင်ခြင်း၊ Fire Hydrant များ တပ်ဆင်ထားခြင်း၊ ရေဖြင့် ငြိမ်းသတ်၍ မရသော Chemical များ အတွက် Foam System Fire Truck Car ထားရှိခြင်းအတွက် ကျပ်သိန်း (၃,၀၀၀) ကျော် ကုန်ကျခံ ထားရှိရမည် ဖြစ်ကြောင်းနှင့် **စာပိုဒ် ၇-၇** တွင် လာရောက် လုပ်ကိုင်သော ဝန်ထမ်းများအတွက် အထပ်မြင့် ဝန်ထမ်းအိမ်ရာများကိုလည်း တည်ဆောက် ရမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(ဃ) အထွေထွေ **စာပိုဒ် ၂၃-၃(၁)** တွင် ငှားရမ်းထားသည့် မြေပေါ်တွင် ပိုးသတ်ဆေး ဖျော်စပ် ထုတ်လုပ်ခြင်း ဆောင်ရွက်ရာတွင် လူကျန်းမာရေး၊ အသက်ဘေး အန္တရာယ် နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ကင်းရှင်းစေရေးအတွက် လည်းကောင်း၊ တောင်သူ အကျိုးစီးပွား မြှင့်တင်နိုင်ရန် အရည်အသွေး ပြည့်မီသော ပိုးသတ်ဆေးများ စနစ် တကျ ထုတ်လုပ်အသုံးပြုနိုင်ရန် စက်ရုံ၏ အရည်အသွေး စီမံ ဆောင်ရွက်မှု စနစ် (Quality Management System) ၊ ပတ်ဝန်းကျင် စီမံ ဆောင်ရွက်မှုစနစ် (Environmental Management System) နှင့် လုပ်ငန်းခွင် ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းမှု စီမံဆောင်ရွက်မှု စနစ် (Occupational Health and safety management system) များအား နိုင်ငံတကာ အသိအမှတ်ပြု စံချိန် စံညွှန်းများနှင့် ကိုက်ညီမှုရှိစေရန်အတွက် ISO 9001၊ ISO 14001 နှင့် ISO 45001 အသိအမှတ်ပြု ထောက်ခံချက် လက်မှတ်များ ရရှိရန် ဆောင်ရွက်ရမည် ဖြစ်ကြောင်း၊ **စာပိုဒ် ၂၃-၃(၂)** တွင် ပိုးသတ်ဆေးများ ဖျော်စပ် ထုတ်လုပ်ရာတွင် ဘေးအန္တရာယ် လုံခြုံခိုင်မာမှု ရှိစေရေးအတွက် နိုင်ငံတကာ အသိအမှတ်ပြု Chemical Abstracts Service (CAS Registry Number) ရရှိထားသော ပိုးသတ်ဆေး များကိုသာ ဖော်စပ်ထုတ်လုပ်ရမည် ဖြစ်ကြောင်းနှင့် ပိုးသတ်ဆေးများ ဖျော်စပ် ထုတ်လုပ်ရာတွင် ပိုးသတ်ဆေးမှတ်ပုံတင် အဖွဲ့မှ ထုတ်ပြန်သော လမ်းညွှန် ချက်များ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများကို လိုက်နာ ဆောင်ရွက်ရမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၁၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာ အုပ်စု၊ ကွင်းအမှတ် ၅၉၅^A ၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇^က/၂ ရှိ မြေ ၁၂၆.၁၃ ဧကအား ငှားရမ်း ခြင်းနှင့် စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၄ ရက် နေ့တွင် ကျင်းပသည့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ တင်ဒါ ရွေးချယ် စိစစ်ရေး ကော်မတီမှ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၉ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ကော်မတီအစည်းအဝေးတွင် အတည်ပြု ဆုံးဖြတ်ပြီးဖြစ်ပါ၍ သက်ဆိုင် ရာဌာနမှ ကုမ္ပဏီနှင့် အသေးစိတ် ညှိနှိုင်း၍ စီမံချက်ရေးဆွဲပြီး စာချုပ်ချုပ်ဆိုနိုင်ရေး

ကို လုပ်ထုံး လုပ်နည်း များနှင့် အညီ ဆက်လက်ဆောင်ရွက်ရန်ဟု ဖော်ပြပါရှိသည့် အစည်းအဝေး ဆုံးဖြတ်ချက် အား ပူးတွဲတင်ပြထားပါသည်။

(ခ) ထုတ်လုပ်မည့် ပိုးသတ်ဆေးများတွင် ဖော်ကျွန်း ၁၀ အီးစီမှာ ပဲမျိုးစုံ၊ ဝါ၊ ဖရဲ တို့တွင် ကျရောက်သည့် ပေါင်းမြက်များကို ထိရောက်စွာ ကာကွယ်နှိမ်နင်းနိုင်သည့် ရွေးချယ် ပေါင်းသတ်ဆေးရည်ဖြစ်ကြောင်း၊ ဟက်ကာ ၁၀ အက်စ်အယ်လ်မှာ ပဲပုတ်နှင့် ပဲမျိုးစုံအတွက် ရွေးချယ်ပေါင်းသတ်ဆေးဖြစ်ကြောင်း၊ ကွန်ပလီ ၁၀ အက်စ်စီနှင့် ကွန်ပလီ ၁၀ ဒဗလျူပီမှာ စပါးခင်းထဲရှိ မြက်မျိုးများ၊ မြက်မုံညင်းနှင့် ရွက်ပြန့်ပေါင်းများကို ကာကွယ် နှိမ်နင်းသည့် ပင်လုံးပြန့် ရွေးချယ် ပေါင်းသတ်ဆေး ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဂ) ၂၀၁၅ ခုနှစ် ပြည်ထောင်စု၏ အခွန်ကောက် ဥပဒေပြဌာန်းချက် အခန်း(၅)၊ အပိုဒ် ၁၁ (ဂ) တွင် ကုန်သွယ်လုပ်ငန်းခွန် မကျသင့်စေရဟု ဖော်ပြထားသည့် လုပ်ငန်း အမျိုးအစားများတွင် ပိုးသတ်ဆေးနှင့် ပေါင်းသတ်ဆေး ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၂၀။ မြန်မာ့ ဩဘာအုပ်စု ကုမ္ပဏီလီမိတက်မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၅^A၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇^က/၂ အား ငှားရမ်း၍ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ လ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁. ၁၀. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၂၆၇ / ၂၀၁၅ (၁၃၄၀)

၁။ မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ်(၇ က/၂)ရှိ မြေ ၁၂၆. ၁၃ ဧက(၅၁၀၄၃၀. ၄၅၂ စတုရန်းမီတာ)အားငှားရမ်း၍ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ်(၇ က/၂)ရှိ မြေ ၁၂၆. ၁၃ ဧက(၅၁၀၄၃၀. ၄၅၂ စတုရန်းမီတာ)အား မြေငှားရမ်းခ တစ်ဧကလျှင် ငွေကျပ်(၁၀၀,၀၀၀/-)နှုန်း၊ စုစုပေါင်း (၁၂၆. ၁၃ ဧက)အတွက် တစ်နှစ်လျှင် ငှားရမ်းခ ကျပ်သိန်း(၁၂,၆၁၃,၀၀၀/-) နှုန်းဖြင့် ၂၀၁၅ ခုနှစ်မှ ၂၀၃၅ ခုနှစ်အထိ နှစ်(၂၀)ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/50,(7)

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၂. ၁၀. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၀/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၅)အရ မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက် ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မှော်ဘီမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မြန်မာ့သြဘာအုပ်စု ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**

ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၈၄၂ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊အောက်တိုဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁-၁၀-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၂၆၇ / ၂၀၁၅ (၁၃၄၁)

၁။ မြန်မာ့ဩဘာအုပ်စု ကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန ၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး ၊ မြောက်ပိုင်းခရိုင် ၊ မှော်ဘီ မြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ သာယာကုန်းအရှေ့ ဦးပိုင်အမှတ်- က ၇/၂ ရှိ မြေဧရိယာ ( ၁၂၆.၁၃ ) ဧက ( ၅၁၀၄၃၀.၄၅၂ စတုရန်းမီတာ ) အား ငှားရမ်း၍ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက် ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် Urea၊ Ehtonol၊ Methanol၊ Citric Acid စသော ကုန်ကြမ်း ပစ္စည်းများ အသုံးပြုမည် ဖြစ်ပါသောကြောင့် ၎င်းတို့မှ ထွက်ရှိလာမည့် အမှုန်အမွှားများ၊အနံ့အသက်များ၊စွန့်ပစ်ရေများနှင့်အခြားစွန့်ပစ်ပစ္စည်းများသည် ပတ်ဝန်းကျင် ရှိ မြေထု၊ ရေထု နှင့် လေထုတို့ အားညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ပြီး ဓါတုကုန်ကြမ်းပစ္စည်းများ အား ကိုင်တွယ်အသုံးပြုမည့် ဝန်ထမ်းများ၊ လုပ်သားများအနေဖြင့် ကျန်းမာရေးဆိုင်ရာ ထိခိုက် မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။ ထို့အပြင် လုပ်ငန်း အဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်ပါသဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာ့ဩဘာအုပ်စုကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး

ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility - CSR) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊

(ဂ) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲ တင်ပြရန် နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁- စမ (၂) ၂၀၁၅ - ၂၀၁၆( ၂၃၃၆ )

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၃ ရက်

M-1869 / 16/10 သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၁၀. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၆၇ / ၂၀၁၅ (၁၃၄၂)

၁။ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ သာယာကုန်းအရှေ့ ဦးပိုင်အမှတ် ၇က/၂ တွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး စိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီ ညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၃.၁၀.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁ / Awba Co.Ltds ( ၅၆၁ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ အောက်တိုဘာလ ၃၀ရက်

MPI_5019
၈.11.15

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁.၁၀.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၂၆၇/၂၀၁၅ (၁၃၄၃)

၁။ မြန်မာ့ဩဘာအုပ်စု ကုမ္ပဏီလီမိတက်သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ သာယာကုန်းအရှေ့၊ ဦးပိုင်အမှတ် ၇က/၂ ရှိ မြေဧရိယာ ၁၂၆.၁၃ ဧက (၅၁၀၄၃၀.၄၅၂ စတုရန်းမီတာ) အား ငှားရမ်း၍ စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များကို ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံတောင်းခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ စိုက်ပျိုးရေးဦးစီးဌာနနှင့် လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနများသို့ သဘောထားမှတ်ချက်များတောင်းခံခဲ့ရာ အဆိုပါဌာနတို့မှ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်။

(က) **စိုက်ပျိုးရေးဦးစီးဌာန**

- အထက်ဖော်ပြပါ မြေနေရာကို စိုက်ပျိုးရေးဦးစီးဌာန နှင့် မြန်မာ့ဩဘာအုပ်စု ကုမ္ပဏီလီမိတက်တို့ (၂၃.၉.၂၀၁၅) ရက်နေ့တွင် သဘောတူစာချုပ်ချုပ်ဆိုခဲ့ပြီး သဘာဝပတ်ဝန်းကျင်မထိခိုက်စေဘဲ အခြေခံ ဖျော်စပ်ထုတ်ပိုးစက်ရုံအဆောက်အအုံ ပြည့်စုံသည့် နေရာတစ်ခု ပေါ်ထွန်းရန်အတွက် ငှားရမ်းခြင်းဖြစ်၍ လုပ်ငန်းများ လုပ်ကိုင်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိရေး လျှောက်ထားလာခြင်း အပေါ် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊

(ခ) **လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန**

- တင်ပြပါမြေနေရာသည် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၅-အေ၊ သာယာကုန်းအရှေ့ကွင်း၊ ဦးပိုင်အမှတ် (၇က/၂) ဧရိယာ (၁၂၆.၁၃) ဧက

ရှိပြီး ရန်ကုန်တိုင်းပြည်သူ့ကောင်စီအလုပ်အမှုဆောင်အဖွဲ့၏(၂၀.၄.၁၉၈၃) ရက်စွဲပါ စာအမှတ်၊ ၃၆၁၈/၁၀၆/စီး-ပွားရေးဖြင့် အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ စက်မှုစီမံကိန်းဦးစီးဌာနသို့ စက်ရုံမြေအဖြစ် အသုံးပြုရန်အတွက် လ/န (၃၉) ခွင့်ပြုခဲ့သော (၃၈၄.၉၇)ဧကအတွင်းမှ ဖြစ်ကြောင်း၊

- လ/န(၃၉)ခွင့်ပြုခဲ့သော (၃၈၄.၉၇) ဧကအနက်မှ ဧရိယာ (၁၃၇.၂၈)ဧကကို ရန်ကုန်မြောက်ပိုင်းခရိုင်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏(၂၁.၁၀.၁၉၉၂) ရက်စွဲပါစာအမှတ် ၉၂၄/၃-၁၃/၉၂ အရ စက်မှုဝန်ကြီးဌာန ပိုးသတ်ဆေး စက်ရုံမြေအဖြစ် အသုံးပြုရန် မြေလွှဲအမိန့်ကြော်ငြာစာဖြင့် လွှဲပြောင်းပေး အပ်ခဲ့ခြင်းဖြစ်ကြောင်း၊
- အဆိုပါစက်ရုံမြေ(၁၃၇.၂၈)ဧကကို အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ (၆.၁၀. ၁၉၉၂) ရက်စွဲပါ စာအမှတ်၊ ၁၄၃/အစ (၃-၁)/၉၂ စာအရ (၃၁.၁၀.၁၉၉၂) ရက်နေ့တွင် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့ စိုက်ပျိုးရေးလုပ်ငန်းသို့လွှဲပြောင်းပေးအပ်ခဲ့ခြင်းဖြစ်ကြောင်း၊
- စိုက်ပျိုးရေးဦးစီးဌာနအောက်ရှိ ပိုးသတ်ဆေးစက်ရုံမြေ (၁၃၇.၂၈) ဧက အနက်မှ စက်ရုံတည်ဆောက်ထားသောမြေ (၁၁.၁၅)ဧကကို ချန်လှပ်ပြီး ဧရိယာ (၁၂၆.၁၃) ကို စိုက်ပျိုးရေးသုံးဆေးများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြန်မာသြဘာအုပ်စု ကုမ္ပဏီလီမိတက်သို့ ငှားရမ်း ခြင်းဖြစ်ကြောင်း၊

၃။ သို့ဖြစ်ပါ၍ တင်ပြလာသောမြေနေရာမှာ မြန်မာ့သြဘာအုပ်စုကုမ္ပဏီလီမိတက်သို့ ငှားရမ်းထားခြင်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၈ . ၁၀ . ၁၇

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန
- ဒုတိယဝန်ကြီး(လယ်ယာ/ဆည်မြောင်း) ၏ကိုယ်ရေးအရာရှိ
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# မြန်မာ့သြဘာအုပ်စုကုမ္ပဏီ လီမိတက်

# စိုက်ပျိုးရေးသုံးဆေးများထုတ်လုပ်ခြင်း
# လုပ်ငန်းစီမံကိန်း (မှော်ဘီ)

× × × × × × × × × × × × × × × ×

(1) To carry on the trading business of importers, exporters, wholesalers and retailers of the following commodities and products permitted by the Government, solely on its own or in join-venture with any foreign or local partners.

(a) Agricultural and farm produces.

(b) Forest products and value-added wood-based products.

(c) Animal by-products and Animal feed.

(d) Marine products.

(e) Fertilizer and insecticides.

(f) Chemicals and dyes.

(g) Factory utencils and raw material

(h) Household goods.

(i) Personal goods.

(j) Construction materials and paints.

(k) Electrical and electronic products.

(l) Vehicles, Machinery and spares.

(m) Tools and implement.

(n) Medicines and medical equipment.

(o) Foodstuff and general merchandise.

(p) Textile and garment.

(q) Paper, stationery and photographic stores.

(r) Office equipment and educational supplies.

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

ကုမ္ပဏီ၏(၇.၉.၂၀၀၄)ရက်စွဲပါတင်ပြစာနှင့်(၁၈.၁၁.၂၀၀၄)ရက်နေ့တွင်ကျင်းပသောပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၄၃/ ၂၀၀၄)၏ခွင့်ပြုချက်အရရောင်းဝယ်ရေး လုပ်ငန်း ကုမ္ပဏီအဖြစ် တဖက်စာမျက်နှာပါ လုပ်ငန်း ရည်ရွယ်ချက်များကို ရွေးချယ်ပြင်ဆင်ခြင်း ဖြစ်ပါသည်။

MYANMA AWBA GROUP CO., LTD.
No..............
Date............

U THADOE HEIN
MANAGING DIRECTOR
MYANMA AWBA GROUP CO., LTD.

အောက်တွင်အမည်၊နိုင်ငံသား၊ နေရပ်နှင့် အမျိုးသားမှတ်ပုံတင်စွာပါသောဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ မိမိတို့အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရင်းနှီးကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသတိုးဟိန်း<br>၁၄၈/၅ ၊ မြဝတ်ရည်လမ်းသွယ်၊ အေဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက(နိုင်)<br>၀၀၃၄၀၃ | ၅၀ | |
| ၂။ | ဦးထွန်းဝင်း<br>၁၄၈/၅ ၊ မြဝတ်ရည်လမ်းသွယ်၊ အေဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက(နိုင်)<br>၀၇၉၁၉၃ | ၅၀ | |
| ၃။ | ဒေါ်ပက်စီ<br>၁၄၈/၅ ၊ မြဝတ်ရည်လမ်းသွယ်၊ အေဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက(နိုင်)<br>၀၇၉၁၆၈ | ၅၀ | |
| ၄။ | ဒေါ်စိုးမာလာ<br>၁၄၈/၅ ၊ မြဝတ်ရည်လမ်းသွယ်၊ အေဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/ဒဂန(နိုင်)<br>၀၂၉၉၃၆ | ၅၀ | |
| ၅။ | ဦးစိုးမင်းသန့်<br>၁၄၈/၅ ၊ မြဝတ်ရည်လမ်းသွယ်၊ အေဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၈/ခမန(နိုင်)<br>၁၀၄၀၂၆ | ၅၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၅ ခုနှစ် ၊ မတ် လ ၊ ၁၄ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးမြတ်လွင်မိုး (ဘီကွမ်း၊ စီပီအေ)
လက်မှတ်ရပြည်သူ့စာရင်းကိုင်
တိုက်(၃)၊ အခန်း(၈)၊ ၁၅၇လမ်း၊ တာမွေမြို့နယ်၊
ရန်ကုန်မြို့။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ့ဩဘာအုပ်စု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ 'က' ပါစည်းမျဉ်းများသည်ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ ( ၂ )တွင် ဖော်ပြပါရှိသည့်မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာသို့မဟုတ်ဒီဘင်ချာသို့မဟုတ်ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မတည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မတည်ငွေရင်းမှာ ကျပ် ၅၀၀,၀၀၀,၀၀၀/-( ကျပ် သန်းငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁,၀၀၀/- ( ကျပ် တစ်ထောင်တိတိ )တန် အစု ရှယ်ယာပေါင်း ( ၅၀၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာ များသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင်ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

[illegible]ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့်အခြားပုဂ္ဂိုလ်များ [illegible]မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ်ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ [illegible]ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည် အသစ် ပြုလုပ်ပေးမှု ကိုသော် [illegible]ကြောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံ [illegible]များကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင် တစ်ဦး၏ [illegible]ဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများကအသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအား မလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့် အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှု တစ်ခုအတွက် အရစ်ကျ ပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများကသတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းဖွဲ့ကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှုမပြုလုပ်သမျှဒါရိုက်တာများ၏အရေအတွက် ( ၂ ) ဦးထက်မနည်း၊ ( ၁၁ ) ဦးထက် မများစေရ။

ပထမဒါရိုက်တာများသည်–

(၁) ဦးသတိုးဟိန်း
(၂) ဦးထွန်းဝင်း
(၃) ဒေါ်ပက်စီ
(၄) ဒေါ်စိုးမာလာ ........ နှင့်
(၅) ဦးစိုးမင်းသန့် ........ တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဒေ ဖွဲ့ဖော်ချမှုများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာ အနည်းဆုံး(၅၀)စုကို ပိုင်ဆိုင်ခြင်း ဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲဒါရိုက်တာအဖွဲ့သည်၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်း ကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့် အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊အချိန်မှန်အစည်းအဝေးတက်ခြင်း၊အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာ ဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ မသတ်မှတ်ပါကဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်အစည်းအဝေးတွင်မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါကမန်နေးဂျင်းဒါရိုက်တာ၏အဆုံးအဖြတ် သည်အတည်ဖြစ်ရမည်။မည်သည့်ကိစ္စများကိုမဆိုမဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ်အနိုင်မဲကိုပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကိုမည်သည့်ဒါရိုက်တာကမဆိုအချိန်မရွေးခေါ်နိုင်သည်။

၄။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းများ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၅။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးတကျင်း၌ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင်အမည်၊နိုင်ငံသား၊ နေရပ်နှင့်အကြောင်းအရာစုံလင်စွာပါသောဇယားတွင်ထက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရင်းနှီးကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသတိုးဟိန်း<br>၁၄၈/၅ ၊ မြဝတီရည်လမ်းသွယ်၊ အောဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက(နိုင်)<br>၀၀၃၄၀၃ | ၅၀ | |
| ၂။ | ဦးထွန်းဝင်း<br>၁၄၈/၅ ၊ မြဝတီရည်လမ်းသွယ်၊ အောဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက(နိုင်)<br>၀၇၉၁၉၃ | ၅၀ | |
| ၃။ | ဒေါ်ပက်စီ<br>၁၄၈/၅ ၊ မြဝတီရည်လမ်းသွယ်၊ အောဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/မရက(နိုင်)<br>၀၇၉၁၆၈ | ၅၀ | |
| ၄။ | ဒေါ်စိုးမာလာ<br>၁၄၈/၅ ၊ မြဝတီရည်လမ်းသွယ်၊ အောဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၁၂/ဗဂန(နိုင်)<br>၀၂၃၉၃၆ | ၅၀ | |
| ၅။ | ဦးစိုးမင်းသန့်<br>၁၄၈/၅ ၊ မြဝတီရည်လမ်းသွယ်၊ အောဝမ်းခြံလမ်း၊ ၉မိုင် ၊ မရမ်းကုန်းမြို့နယ် ၊ ရန်ကုန်မြို့ ။<br>(ကုန်သည်) | မြန်မာ<br>၈/ခမန(နိုင်)<br>၁၀၄၀၂၆ | ၅၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၅ ခုနှစ် ၊ မေ လ ၊ ၁၄ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးမြတ်လွင်မိုး (ဘီကွမ်း၊ စီပီအေ)
လက်မှတ်ရပြည်သူ့စာရင်းကိုင်
တိုက်(၃)၊ အခန်း(၈)၊ ၁၅၇လမ်း၊ တာမွေမြို့နယ်၊
ရန်ကုန်မြို့။

# THE MYANMAR COMPANY ACT

# PRIVATE COMPANY LIMITED BY SHARES

# MEMORANDUM OF ASSOCIATION

# OF

# MYANMA AWBA GROUP COMPANY LIMITED

❖❖❖❖❖❖

I The name of the Company is **MYANMA AWBA GROUP COMPANY LIMITED.**

II The registered office of the Company will be situated in the Union of Myanmar.

III The objects for which the Company is established are as on the next page.

IV The liability of the members is limited.

V The authorised capital of the Company is Ks. 500,000,000/- ( Kyats - Five Hundred Million Only ) divided into ( 500,000 ) shares of Ks. 1,000/- ( Kyats - One Thousand Only ) each , with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

(1) To carry on the trading business of importers, exporters, wholesalers and retailers of the following commodities and products permitted by the Government, solely on its own or in join-venture with any foreign or local partners.

(a) Agricultural and farm produces.

(b) Forest products and value-added wood-based products.

(c) Animal by-products and Animal feed.

(d) Marine products.

(e) Fertilizer and insecticides.

(f) Chemicals and dyes.

(g) Factory utencils and raw material

(h) Household goods.

(i) Personal goods.

(j) Construction materials and paints.

(k) Electrical and electronic products.

(l) Vehicles, Machinery and spares.

(m) Tools and implement.

(n) Medicines and medical equipment.

(o) Foodstuff and general merchandise.

(p) Textile and garment.

(q) Paper, stationery and photographic stores.

(r) Office equipment and educational supplies.

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

ကုမ္ပဏီ၏(၇.၉.၂၀၀၄)ရက်စွဲပါတင်ပြစာနှင့်(၁၈.၁၁.၂၀၀၄)ရက်နေ့တွင်ကျင်းပသောပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၄၃/၂၀၀၄)၏ခွင့်ပြုချက်အရရောင်းဝယ်ရေး လုပ်ငန်း ကုမ္ပဏီအဖြစ် တဖက်စာမျက်နှာပါ လုပ်ငန်း ရည်ရွယ်ချက်များကို ရွေးချယ်ပြင်ဆင်ခြင်း ဖြစ်ပါသည်။

MYANMA AWBA GROUP CO., LTD.
No..............
Date............

U THADOE HEIN
MANAGING DIRECTOR
MYANMA AWBA GROUP CO., LTD.

We the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | U Thadoe Hein<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile,<br>Mayangone Township, Yangon.<br>(Merchant) | Myanmar<br>12 / Ma Ya Ka<br>(Naing)<br>003403 | 50 | |
| 2 | U Tun Win<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile,<br>Mayangone Township, Yangon.<br>(Merchant) | Myanmar<br>12 / Ma Ya Ka<br>(Naing)<br>079193 | 50 | |
| 3 | Daw Patsy<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile,<br>Mayangone Township, Yangon.<br>(Merchant) | Myanmar<br>12 / Ma Ya Ka<br>(Naing)<br>079168 | 50 | |
| 4 | Daw Soe Mar Lar<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile,<br>Mayangone Township, Yangon.<br>(Merchant) | Myanmar<br>12 / Da Ga Na<br>(Naing)<br>023936 | 50 | |
| 5 | U Soe Min Thant<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile,<br>Mayangone Township, Yangon.<br>(Merchant) | Myanmar<br>8/ Kha Ma Na<br>(Naing)<br>104026 | 50 | |

Yangon Dated the 14th day of March, 1995.

*It is hereby certified that the persons mentioned above put their signatures in my presence.*

U MYAT LWIN MOE (B.Com,C.P.A)
Certified Public Accountant
Bldg.3, Room3,157th Street, Tamwe Township, Yangon.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# ARTICLES OF ASSOCIATION

OF

# MYANMA AWBA GROUP COMPANY LIMITED

❖❖❖❖❖❖❖

1 The regulations contained in Table' A ' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2 The Company is to be a Private Company and accordingly following provisions shall have effect:-

(a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

(b) *Any invitation to the public to subscribe for any share or debenture or deben ture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3 The Authorised Capital of the Company is Ks. 500,000,000/- ( Kyats - Five Hundred Million Only ) divided into ( 500,000 ) shares of Ks. 1,000/- ( Kyats - One Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4 Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

The certificate of title to share shall be issued under the seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destoryed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and idemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6 The Directors may, from time to time make up on the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made up on him to the persons, and at the times and pleases appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7 Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 11 ).
The First Directors shall be:-
(1) U Thadoe Hein
(2) U Tun Win
(3) Daw Patsy
(4) Daw Soe Mar Lar ....... and
(5) U Soe Min Thant

8 The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9 The qualification of a Director shall be the holding of at least ( 50 ) shares in the Company in his or her own name and it shall be his duty to comply with the provision of section ( 85 ) of the Myanmar Companies Act.

10 The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reson.

## PROCEEDINGS OF DIRECTORS

11 The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shallfrom a quorum.
If any question arising at any meeting the Managing Director's decision shall be finial.
When any matter is put to a vote and if there shall be anequality of votes,the Chairman shall have a second or casting vote.

12 Any Director may at any time summon a meeting of Directors.

13 A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14 Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of ar Director or other person who may incur or be about to incur a personal liability for the benefit of the Company, such mortgages of Company's property (present and future) as they think fit and any s mortgage may contain a power of sale and such other powers, covenants provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commi on the profits of any particular business or transaction or a share i general profit of the Company and such commission or share of profi be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regula the business of the Company, the officers and servants or the n of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and such contracts and execute and do all such acts, deeds and thin name and on behalf of the Company as they may consider expedien relation to any of the matter aforesaid or otherwise for the p the Company.

(19) To borrow money for the benefit of the Company's business from firm or company or bank or financial organization of local and a manner that the Directors shall think fit.

## GENERAL MEETINGS

15 A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16 The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17 The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2)* *all sales and purchases of goods by the Company;*

*(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20 Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1. | U Thadoe Hein<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile<br>Mayangone Township, Yangon<br>(Merchant) | Myanmar<br>12 / Ma Ya Ka<br>(Naing)<br>[illegible] | 50 | |
| 2. | U Tun Win<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile<br>Mayangone Township, Yangon<br>(Merchant) | Myanmar<br>12 / Ma Ya Ka<br>(Naing)<br>073193 | 50 | |
| 3. | Daw Patsy<br>148/5, Mya.Wut Yi Lane,<br>A-1 Compound Street, 9 Mile<br>Mayangone Township, Yangon<br>(Merchant) | Myanmar<br>12 / Ma Ya Ka<br>(Naing)<br>078108 | 50 | |
| 4. | Daw Soe Mar Lar<br>148/5, Mya Wut Yi Lane,<br>A-1 Compound Street, 9 Mile<br>Mayangone Township, Yangon<br>(Merchant) | Myanmar<br>12 / Da Ga Na<br>(Naing)<br>023936 | 50 | |
| 5. | U Soe Min Thant<br>148/5, Mya Wut Yi Lane<br>A-1 Compound Street, 9 Mile<br>Mayangone Township, Yangon<br>(Merchant) | Myanmar<br>8/ Kha Ma Na<br>(Naing)<br>104026 | 50 | |

Yangon. Dated the 4th day of march, 1995.

*It is hereby certified that the persons mentioned above put their signatures in my presence*

**U MYAT LWIN MOE** (B.Com,C.P.A)
Certified Public Accountant
Bldg 3, Room8, 157th Street, Tamwe Township, Yangon.

## SL / SC / EW Formulation Process Flow Diagram

